ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက- ၃/ န-CMP/၂၀၁၅( ၁၀၃၂ )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၃၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Mirae Myanmar Co., Ltd. နှင့် Myanmar Dongtai Garments Co., Ltd. တို့မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Mirae Myanmar Co., Ltd. နှင့် Myanmar Dongtai Garments Co., Ltd. တို့မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်းများနှင့် သက်ဆိုင်သော အချိန်ဇယား၊ ခန့်မှန်းခြေအကျိုးအမြတ်၊ လုပ်ငန်းနှင့် ပတ်သက်သော အချက်အလက်အကျဉ်းချုပ်၊ ခန့်မှန်းခြေအကျိုးအမြတ်၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ စက်မှုဝန်ကြီးဌာန၊ CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီတို့၏ လုပ်ငန်းအပေါ် ခွင့်ပြုကြောင်း သဘောထား ပြန်ကြားချက်များကို ပူးတွဲအဖြစ် တင်ပြအပ်ပါသည်။

၃။ အဆိုပြုတင်ပြချက်များအရ လုပ်ငန်းများ၏ အဓိကအချက်အလက်များဖြစ်သော တည်နေရာ၊ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု၊ ထုတ်လုပ်မည့်ပစ္စည်း၊ လုပ်သားအင်အား၊ မြေငှားကာလနှင့် မြေငှားရမ်းခ စသည်အချက်တို့မှာ အောက်ပါအတိုင်းဖြစ်ကြောင်း တင်ပြအပ်ပါသည်-

| | | |
|---|---|---|
| **ကုမ္ပဏီအမည်** | Mirae Myanmar Co., Ltd. | Myanmar Dongtai Garments Co., Ltd. |
| **တည်နေရာ** | မြေကွက်အမှတ်-၁၈၀-D၊ စက်မှုဒေသ၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄) တိုးချဲ့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | မြေကွက်အမှတ်-၁၈၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၃/၁၊ကျန်စစ်သားရိပ်မွန် စက်မှုဇုန်-၁၊ ဒဂုံမြို့သစ်(တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | US$ ၂.၉၅၇ သန်း | US$ ၀.၇၆၃၈ သန်း |

| | | |
|---|---|---|
| **ထုတ်လုပ်မည့်ပစ္စည်း** | T-Shirt | Men's Jackets |
| | Pants | Men's Pants |
| | Dress | Men's Vest |
| | Men Pullover | Men's Suit |
| | Women Pullover | Men's Padding Jackets |
| | Jacket | Men's Padding Pants |
| | | Men's Padding Vest |
| | | Men's Padding Suit |
| **လုပ်သားအင်အား** | **၆၃၉ ဦး** | **၅၂၆ ဦး** |
| **ပြည်တွင်း** | ၆၂၀ ဦး | ၅၁၄ ဦး |
| **ပြည်ပ** | ၁၉ ဦး | ၁၂ ဦး |
| **မြေငှားရမ်းကာလ** | (၃၀) နှစ် (သက်တမ်းတိုး ၁၀ နှစ် ၁ကြိမ်) | ကနဦး ၃၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| **နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခနှုန်း** | US$ ၂၈,၀၂၅ (တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၅.၀၀ နှုန်း) | US$ ၄၉,၃၈၉.၉၀ (တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၅.၅ နှုန်း) |

၄။ အဆိုပြုကုမ္ပဏီများမှ တင်သွင်းမည့် စက်ပစ္စည်းများအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအရ တင်သွင်းခွင့်ပြုပါရန် တင်ပြထားပါသည်။

၅။ အဆိုပါလုပ်ငန်းများသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေးလုပ်ငန်းအမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၈/၂၀၁၅ (၁-၆-၂၀၁၅) နှင့် ၁၇/၂၀၁၅ (၂၅-၅-၂၀၁၅) အစည်းအဝေးများသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၇။ အဆိုပြုလုပ်ငန်းများမှ ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူခွင့်ပြုပြီးမှသာ ကော်မရှင်ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၈။ သို့ဖြစ်ပါ၍ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Mirae Myanmar Co., Ltd. နှင့် Myanmar Dongtai Garments Co., Ltd. တို့မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ လမ်းညွှန်မှုခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ

ကန့်သတ်

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Mirae Myanmar Co., Ltd. နှင့် Myanmar Dongtai Garments Co., Ltd. တို့မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | ကုမ္ပဏီအမည် | - Mirae Myanmar Co., Ltd. | - Myanmar Dongtai Garment Company Limited |
|---|---|---|---|
| ၁။ | ကမကထပြုသူ | - Mr. Jung Pill Moon (ကိုရီးယား) | - Mr. Dong Jixian (တရုတ်) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Mirae C & T Co., Ltd. (ကိုရီးယား) ၈၀ %<br>- Mr. Jung Pill Moon (ကိုရီးယား) ၁၂ %<br>- Mr. Lee Ho (ကိုရီးယား) ၈ % | -ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Qingdao Handsome Garments Co., Ltd. (တရုတ်)<br>၁၀၀ % |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၁၈၀-D၊ စက်မှုဒေသ၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄) တိုးချဲ့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | -မြေကွက်အမှတ်-၁၈၊ မြေတိုင်းရပ်ကွက် အမှတ်-၁၄၃/၁၊ ကျွန်စစ်သားရိပ်မွန် စက်မှုဇုန်-၁၊ ဒဂုံမြို့သစ်(တောင်ပိုင်း) မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး |
| | မြေအကျယ်အဝန်း | - ၁.၃၈၅ ဧက (၅၆၀၅ စတုရန်းမီတာ) | - ၂.၂၁၉ ဧက (၈၉၇၉.၉၈၂ စတုရန်းမီတာ) |
| | အဆောက်အဦ | - စက်ရုံ - ၂၈၄ ပေ x ၈၂ ပေ (၁ ထပ် အဆောက်အဦ ၁ လုံး)<br>- ရုံးခန်း - ၈၂ ပေ x ၄၀ ပေ (၁ ထပ် အဆောက်အဦ ၁ လုံး) | - ၁၀၀ ပေ x ၂၀၀ ပေ (၁ ထပ် အဆောက်အဦ ၁ လုံး) |
| | မြေပိုင်ရှင် | - New Way Industries Ltd. | - ဒေါ်အေးကွယ် |
| ၃။ | နှစ်စဉ်မြေနှင့် အဆောက်အဦငှားရမ်းခ | - အမေရိကန်ဒေါ်လာ ၂၈,၀၂၅<br>- တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၅.၀၀ နှုန်း | - အမေရိကန်ဒေါ်လာ ၄၉,၃၈၉.၉<br>- တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၅.၅ နှုန်း |
| | မြေငှားသက်တမ်း | - ၃၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၁ ကြိမ်) | - ကနဦး ၁၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| ၄။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) | - ၃၀ နှစ် ( သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ) |
| | တည်ဆောက်ရေးကာလ | - ၃ လ | - ၁၈ လ |

ကန့်သတ်

| | ကုမ္ပဏီအမည် | - Mirae Myanmar Co., Ltd. | - Myanmar Dongtai Garment Company Limited |
|---|---|---|---|
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၂.၉၅၇ သန်း | - အမေရိကန်ဒေါ်လာ ၀.၇၆၃၈သန်း |
| | ထည့်ဝင်သည့် အမျိုးအစား | - **(US$ သန်း)** | - **US$ သန်း** |
| | ငွေသား | ၀.၁၅၀ | ၀.၃၀၀၀ |
| | စက်နှင့်စက်ပစ္စည်း (ပြည်ပ) | ၂.၈၀၂ | ၀.၁၅၃၄ |
| | ရုံးသုံးပစ္စည်း(ပြည်တွင်း) | ၀.၀၀၃ | ၀.၀၅၈၀ |
| | ပရိဘောဂ (ပြည်တွင်း) | ၀.၀၀၂ | - |
| | မော်တော်ကား(ပြည်တွင်း) | - | ၀.၀၀၈၀ |
| | လျှပ်စစ်ပစ္စည်း(ပြည်တွင်း) | - | ၀.၁၀၀၀ |
| | စက်နှင့်စက်ပစ္စည်း(ပြည်တွင်း) | - | ၀.၀၄၄၄ |
| | အဆောက်အဦပြင်ဆင်စရိတ် | - | ၀.၁၀၀၀ |
| | **စုစုပေါင်း** | **၂.၉၅၇** | **၀.၇၆၃၈** |
| ၆။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - **၆၃၉ ဦး** | - **၅၂၆ ဦး** |
| | ပြည်တွင်း | - ၆၂၀ ဦး (ပြည်တွင်းအနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၉၀ ၊ အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၆၀၀) | ၅၁၄ ဦး (ပြည်တွင်းအနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၉၅,၀၀၀၊ အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၅၀၀,၀၀၀) |
| | ပြည်ပ | ၁၉ ဦး (ပြည်ပအနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁,၀၀၀ ၊ အမြင့် ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၂,၀၀၀ ) | ၁၂ ဦး (ပြည်ပအနိမ်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၂၀၀၀ ၊အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၂၅၀၀ ) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်ပသို့ တင်ပို့ခြင်း | - ၁၀၀ % ပြည်ပသို့ တင်ပို့ခြင်း |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ် ) | - US$ ၄.၁၃၇ သန်း | - US$ ၂.၃၃၇၇ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ် ) | - US$ ၃.၄၈၅ သန်း | - US$ ၂.၁၇၀၅ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - US$ ၀.၆၅၂ သန်း | - US$ ၀.၁၆၇၂သန်း |

| | ကုမ္ပဏီအမည် | - Mirae Myanmar Co., Ltd. | - Myanmar Dongtai Garment Company Limited |
|---|---|---|---|
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဌမနှစ်) ဝင်ငွေခွန် | - US$ ၀.၂၁၇ သန်း (၁ US$ = ၁,၀၂၇ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။) | - US$ ၀.၀၅၅၇ သန်း (၁ US$ = ၁၀၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။ |
| | အရင်းကြေကာလ | - ၄ နှစ် ၃ လ | - ၄ နှစ် ၆ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၁.၆၀ % | - ၁၉.၂၂ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၃၀၀,၀၀၀ Units | - ၅၅,၀၀၀ Unit |
| ၁၁။ | ငွေရေးကြေးရေးအထောက်အထား | - Mirae Myanmar Co., Ltd. ၏ ငွေရေးကြေးရေး အထောက်အထားအဖြစ် Mirae C & T Co., Ltd. သည် WOORI BANK တွင် ကိုရီးယားဝမ် ၂၈၀,၀၀၀,၀၀၀ အမေရိကန်ဒေါ်လာ (၂၅၁,၃၄၁.၉၈၇) ရှိကြောင်းနှင့် Mr. Lee Ho သည် Busan Bank တွင် Account ဖွင့်ထားသည့် အထောက်အထားတင်ပြထားပါသည်။ | - ငွေရေးကြေးရေး အထောက်အထားအဖြစ် Myanmar Dongtai Garments Co., Ltd. သည် တရုတ်နိုင်ငံရှိ Qingdao Rural Commercial Bank တွင်၁၆-၄-၂၀၁၅ ရက်စွဲဖြင့် US$ ၃,၆၅၃,၉၉၅.၀၀ ရှိကြောင်း အထောက်အထားအား တင်ပြထားပါသည်။ |
| ၁၂။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (အကြိမ်/ရက်စွဲ) | - ၁၈/၂၀၁၅ (၁-၆-၂၀၁၅) | - ၁၇/၂၀၁၅ (၂၅-၅-၂၀၁၅) |
| ၁၃။ | ပုဂ္ဂလိကမြေကို ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေး (အကြိမ်/ရက်စွဲ) | - တင်ပြထားဆဲဖြစ်ပါသည်။ | - တင်ပြထားဆဲဖြစ်ပါသည်။ |
| ၁၄။ | Cost & Benefit | - ၁ : ၄ | - ၁ : ၃ |
| ၁၅။ | စုစုပေါင်းကြာမြင့်ရက် | - ၆၂ ရက် | - ၅၉ ရက် |
| ၁၆။ | သဘောထားမှတ်ချက်အကျဉ်းချုပ်များ | | |
| | တိုင်းဒေသကြီးသဘောထားမှတ်ချက် | - **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** အစည်းအဝေး အမှတ်စဉ် ၃၀/၂၀၁၅ (၁၈-၆-၂၀၁၅) မှ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ | - **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** အစည်းအဝေးအမှတ်စဉ် ၂၇/၂၀၁၅ (၄-၆-၂၀၁၅) မှ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားပြန်ကြား ထားပါသည်။ |

| | | | |
|---|---|---|---|
| | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက် | - စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ သဘောထားမှတ်ချက်နှင့် အညီ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြထားပါသည်။** | - စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (EMP) ရေးဆွဲတင်ပြရန်နှင့် ၎င်းအစီအစဉ်ပါအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ သဘောထားမှတ်ချက်နှင့် အညီ ဆောင်ရွက်မည်ဖြစ်ကြောင်းဝန်ခံကတိတင်ပြထားပါသည်။** |
| | စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက် | - စက်မှုဝန်ကြီးဌာနမှ လိုအပ်ချက်များ မှတ်ချက်ပြုထားခြင်းအပေါ် **ကုမ္ပဏီမှပြင်ဆင်တင်ပြခြင်းကို စက်မှုဝန်ကြီးဌာနမှ စိစစ်လက်ခံပြီးဖြစ်ပါသည်။** | - စက်မှုဝန်ကြီးဌာနမှ လိုအပ်ချက်များ မှတ်ချက်ပြု ထားခြင်းအပေါ် **ကုမ္ပဏီမှပြင်ဆင်တင်ပြခြင်းကို စက်မှုဝန်ကြီးဌာနမှ စိစစ်လက်ခံပြီးဖြစ်ပါသည်။** |
| | CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ၏ သဘောထားမှတ်ချက် | - CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီမှ လိုအပ်ချက်များ မှတ်ချက်ပြုထားခြင်းအပေါ် **ကုမ္ပဏီမှ ပြန်လည် ပြင်ဆင်ချက်များကို CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီမှ စိစစ်လက်ခံပြီးဖြစ်ပါသည်။** | - CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီမှ လိုအပ်ချက် များမှတ်ချက်ပြု ထားခြင်းအပေါ် **ကုမ္ပဏီမှ ပြန်လည် ပြင်ဆင် ချက်များကို CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီမှ စိစစ်လက်ခံပြီးဖြစ်ပါသည်။** |
| ၁၇။ | CSR | - ၂ % | - ၁ % |
| ၁၈။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - မီးဘေးကြိုတင်ကာကွယ်ရေးအတွက် ရေဂါလံ (၅၀,၀၀၀)ဆံ့ ရေကန်(၂)ကန်တည်ဆောက်မည်ဖြစ်ပါကြောင်း၊ စက်ရုံအဆောက်အဦအား မီးလောင်မှုမှ ကာကွယ်ရန် ရေပုံး၊ မီးကတ်၊ သဲအိတ်၊ မီးသတ်ဗူးများကို အဆင်သင့်ထားရှိမည် ဖြစ်ပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ်ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါကြောင်း၊ အရေးပေါ် အခြေအနေ ပေါ်ပေါက်ပါက လုပ်ဆောင်ရန် အချက်များအား တိကျစွာ လိုက်နာရေးအတွက် ဝန်ထမ်းများအား ညွှန်ကြားထား | - ရေဂါလံ (၈၀,၀၀၀)ဆံ့ ရေကန်(၁)ကန် တည်ဆောက်မည် ဖြစ်ပါကြောင်း၊ စက်ရုံအဆောက်အဦအား မီးလောင်မှုမှ ကာကွယ်ရန် ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဗူးများကို အဆင်သင့် ထားရှိမည် ဖြစ်ပါကြောင်း၊ ဝန်ထမ်းများ ကိုလည်း မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်း ပညာများ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါကြောင်း၊ အရေးပေါ် အခြေအနေပေါ် ပေါက်ပါက လုပ်ဆောင်ရန် အချက်များအား တိကျစွာ လိုက်နာရေးအတွက် ဝန်ထမ်းများအား ညွှန်ကြား |

| | | | |
|---|---|---|---|
| | | မည်ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းနှင့် စက်ရုံဝင်းအတွင်း ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားပါကြောင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ | ထားမည်ဖြစ်ပါကြောင်း၊ မီးလောင်လျှင် အချက်ပေး သည့်စနစ် တပ်ဆင်ထားမည်ဖြစ်ကြောင်း၊ မနက်/ည အဖွဲ့ခွဲ၍ မီးသေး လုံခြုံ ရေးစောင့်ကြပ်ခိုင်းမည်ဖြစ်ကြောင်း၊ စက်ရုံအတွင်း နှင့် စက်ရုံဝင်းအတွင်း ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားပါကြောင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်းတင်ပြထားပါသည်။ |
| ၁၉။ | အခြား | အဆိုပြုချက်နှင့်အတူ မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများ ငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)၊ Mirae C & T Co., Ltd. နှင့် Mirae Myanmar Co., Ltd. တို့အကြား ချုပ်ဆိုထား သည့် Contract၊ တည်နေရာပြမြေပုံ၊ မြေပိုင်ရှင် New Way Industries Ltd. အား ကော်မရှင်မှ ခွင့်ပြုမိန့် ပြန်လည်အပ်နှံခွင့် ပြုသည့်စာ၊ New Way Industries Ltd. မှ ခွင့်ပြုမိန့် အပ်နှံပြီး သည့် အထောက်အထား ၊ ထုတ်လုပ်မည့် ပစ္စည်းနမူနာများ၊ Passport မိတ္တူများကို တင်ပြ ထားပါသည်။ | - <br> - |

ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော Mirae Myanmar Co., Ltd. ၏
ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၆-၅-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၂-၆-၂၀၁၅ | ၂၃-၆-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန | ၂-၆-၂၀၁၅ | ၁၅-၆-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန (ပထမအကြိမ်) | ၂-၆-၂၀၁၅ | ၁၅-၆-၂၀၁၅ | |
| | စက်မှုဝန်ကြီးဌာန (ဒုတိယအကြိမ်) | ၉-၇-၂၀၁၅ | ၂၄-၇-၂၀၁၅ | |
| | (ဃ) CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ (ပထမအကြိမ်) | ၂-၆-၂၀၁၅ | ၁၂-၆-၂၀၁၅ | |
| | CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ (ဒုတိယအကြိမ်) | ၃-၇-၂၀၁၅ | ၁၇-၇-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၈/၂၀၁၅) သို့ တင်ပြခြင်း | ၁-၆-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းစာ ပေးပို့ခြင်း | ၁-၆-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြခြင်း | ၂၄-၇-၂၀၁၅ | | |
| ၆ | ကုမ္ပဏီမှ ပြင်ဆင်ပြီး အဆိုပြုလွှာ အစုံ (၇) စုံ ပေးပို့ခြင်း | ၂၇-၇-၂၀၁၅ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | ၆၂ ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Mirae Myanmar Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - | မြေကွက်အမှတ်-၁၈၀-D၊ ဗဟိုမူမြေဒေသ၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄) တိုးချဲ့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | အမေရိကန်ဒေါ်လာ ၂.၉၅၇ သန်း |
| ရောင်းချမည့်စနစ် | - | ၁၀၀ % ပြည်ပသို့တင်ပို့ခြင်း |
| လုပ်ငန်းသက်တမ်း | - | ၃၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| အရင်းကြေကာလ | - | ၄ နှစ် ၃ လ |
| IRR | - | ၂၁.၆၀ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၄၃.၈၉၃ သန်း | - |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၅ | ဝင်ငွေခွန် | ကျပ် ၆၅၉.၂၈၃ သန်း | ကျပ် ၆၆၉.၁၉၃ သန်း |
| ၆ | ရေ/လောင်စာဆီ/လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၂,၅၃၁.၃၄၉ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်း (၂၀) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၈၈) ဦး |
| ၈ | CSR ၂% | | ကျပ် ၅၂.၆၈၅ သန်း |
| ၉ | မြေငှားရမ်းခရငွေ | | ကျပ် ၂၀၁.၄၇၂ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၆၂၀ ဦး<br>ပြည်ပ ၁၉ ဦး<br>ပြည်တွင်းလုပ်သား (၆၂၀) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများပိုမိုရရှိစေပြီးဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၈၀၅.၃၃၆ သန်း** | **ကျပ် ၃,၄၅၅.၈၆၄ သန်း** |
| | | ၁ : ၄ | |

အကြောင်းအရာ။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Mirae Myanmar Co., Ltd. တည်ထောင်ကာ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - Mirae Myanmar Co., Ltd. |
| | | - Mr. Jung Pill Moon (ကိုရီးယား) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | | - Mirae C & T Co., Ltd. (ကိုရီးယား) ၈၀ % |
| | | - Mr. Jung Pill Moon (ကိုရီးယား) ၁၂ % |
| | | - Mr. Lee Ho (ကိုရီးယား) ၈ % |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၁၈၀-D၊ စက်မှုဒေသ၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄) တိုးချဲ့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေဧရိယာ | - ၁.၃၈၅ ဧက (၅၆၀၅ စတုရန်းမီတာ) |
| | အဆောက်အဦ | - စက်ရုံ - ၂၈၄ ပေ x ၈၂ ပေ (၁ ထပ် အဆောက်အဦ ၁ လုံး) |
| | | - ရုံးခန်း - ၈၂ ပေ x ၄၀ ပေ (၁ ထပ် အဆောက်အဦ ၁ လုံး) |
| | မြေပိုင်ရှင် | - New Way Industries Ltd. |
| ၃။ | နှစ်စဉ်မြေ ငှားရမ်းခ | - အမေရိကန်ဒေါ်လာ ၂၈,၀၂၅ (တစ်နှစ်တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၅ နှုန်း) |
| | မြေငှားသက်တမ်း | - ၃၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၁ ကြိမ်) |
| ၄။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| | တည်ဆောက်ရေးကာလ | - ၃ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၂.၉၅၇ သန်း |
| | ထည့်ဝင်သည့် အမျိုးအစား | **US$ (သန်း)** |
| | ငွေသား | ၀.၁၅၀ |
| | စက်နှင့်စက်ပစ္စည်း (ပြည်ပ) | ၂.၈၀၂ |
| | ရုံးသုံးပစ္စည်း(ပြည်တွင်း) | ၀.၀၀၃ |
| | ပရိဘောဂ (ပြည်တွင်း) | ၀.၀၀၂ |
| | **စုစုပေါင်း** | **၂.၉၅၇** |
| ၆။ | ဝန်ထမ်းအင်အား | - **၆၀၉ ဦး** |
| | ပြည်တွင်း | ၅၉၀ ဦး (ပြည်တွင်းအနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၉၀၊ အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၆၀၀) |
| | ပြည်ပ | ၁၉ ဦး (ပြည်ပအနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁,၀၀၀၊ အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၂,၀၀၀ ) |
| ၇။ | ရောင်းချမည့် နည်းစနစ် | - ၁၀၀ % ပြည်ပသို့တင်ပို့ခြင်း |

| | | |
|---|---|---|
| ၈။ | ၆နှစ်မြောက်တွင် ကုမ္ပဏီ၏ | |
| | ဝင်ငွေ | - အမေရိကန်ဒေါ်လာ ၄.၁၃၇ သန်း |
| | အသုံးစရိတ် | - အမေရိကန်ဒေါ်လာ ၃.၄၈၅ သန်း |
| | အသားတင်အမြတ် | - အမေရိကန်ဒေါ်လာ ၀.၆၅၂ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုး အမြတ် (ဆဌမနှစ်) | |
| | ဝင်ငွေခွန် | - အမေရိကန်ဒေါ်လာ ၀.၂၁၇ သန်း |
| ၁၀။ | အရင်းကြေကာလ | - ၄ နှစ် ၃ လ |
| | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၁.၆၀ % |
| | | - ၁ US$ = ၁,၀၂၇ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။ |
| ၁၁။ | နှစ်စဉ်လျှပ်စစ်ဓါတ်အား သုံးစွဲမှု | - ၃၀၀,၀၀၀ Units |
| ၁၂။ | CSR | - လူမှုဘဝသာယာဝပြောရေးတာဝန်ယူမှု(Corporate Social Responsibility) အတွက် အသားတင်အမြတ်ငွေ၏ ၂ % ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက် | - မီးဘေးကြိုတင်ကာကွယ်ရေးအတွက် ရေဂါလံ (၅၀,၀၀၀)ဆံ့ ရေကန်(၂) ကန်တည်ဆောက်မည်ဖြစ်ပါကြောင်း၊ စက်ရုံအဆောက်အဦအား မီးလောင်မှုမှ ကာကွယ်ရန် ရေပုံး၊ မီးကတ်၊ သဲအိတ်၊ မီးသတ်ဗူးများကို အဆင်သင့်ထားရှိမည် ဖြစ်ပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါကြောင်း၊ အရေးပေါ်အခြေအနေ ပေါ်ပေါက်ပါက လုပ်ဆောင်ရန် အချက်များအား တိကျစွာ လိုက်နာရေးအတွက် ဝန်ထမ်းများအား ညွှန်ကြားထားမည်ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းနှင့် စက်ရုံဝင်းအတွင်း ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားပါကြောင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များမဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |
| ၁၄။ | အခြား | - Mirae Myanmar Co., Ltd. ၏ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း (မူကြမ်း)များအား တင်ပြထားပါသည်။<br>- Mirae C & T Co., Ltd. ၏ ကုမ္ပဏီ အထောက်အထားအဖြစ် ကိုရီးယားနိုင်ငံတွင်ကုမ္ပဏီမှတ်ပုံတင်အမှတ်-၆၂၀-၈၆-၁၁၉၁၅(၂၂-၉-၂၀၁၄) ရက်စွဲဖြင့် ကုမ္ပဏီမှတ်ပုံတင်ထားသည့် အထောက်အထားနှင့် ငွေရေးကြေးရေး အထောက်အထားအဖြစ် Mirae C & T Co., Ltd. သည် WOORI BANK တွင် ကိုရီးယားဝမ် ၂၈၀,၀၀၀,၀၀၀ (အမေရိကန်ဒေါ်လာ ၂၅၁,၃၄၁.၉၈၇) ရှိကြောင်းနှင့် Mr. Lee Ho သည် Busan Bank တွင် Account ဖွင့်ထားသည့် အထောက်အထားများ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - အဆိုပြုချက်နှင့်အတူ မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများ ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ Mirae C & T Co., Ltd. နှင့် Mirae Myanmar Co., Ltd. တို့အကြား ချုပ်ဆိုထားသည့် Contract၊ တည်နေရာပြမြေပုံ၊ မြေပိုင်ရှင် New Way Industries Ltd. အား ကော်မရှင်မှ ခွင့်ပြုမိန့် ပြန်လည်အပ်နှံခွင့်ပြုသည့်စာ၊ New Way Industries Ltd. မှ ခွင့်ပြုမိန့် အပ်နှံပြီးသည့် အထောက်အထား ၊ ထုတ်လုပ်မည့် ပစ္စည်းနမူနာများ၊ Passport မိတ္တူများကို တင်ပြထားပါသည်။ |



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ် ၊ ၃ / ၆ - ၃ (၄၃) / လျှပ်စစ်

ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇွန် လ ၂၃ ရက်

သို့

M-1182
24/6/15

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂. ၆. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃/ န-၁၂၁၀ / ၂၀၁၅ (၇၁၈)

၁။ ကိုရီးယားနိုင်ငံ Mirae C & T Co., Ltd. မှ ၈၀%၊ Mr. Jung Pill Moon မှ ၁၂%နှင့် Mr. Lee Ho မှ ၈% ထည့်ဝင်၍ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Mirae Myanmar Co., Ltd. တည်ထောင်ကာ မြေကွက်အမှတ်-၁၈၀ D၊ စက်မှုဒေသ၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄)တိုးချဲ့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁. ၃၈၅ ဧက(၅၆၀၅ စတုရန်းမီတာ)နှင့် ၄င်းမြေပေါ်ရှိ အဆောက်အဦ(၂)လုံးအား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၅၉၀)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် မြေကွက်အမှတ်-၁၈၀ D၊ စက်မှုဒေသ၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄)တိုးချဲ့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁. ၃၈၅ ဧက (၅၆၀၅ စတုရန်းမီတာ)အား တစ်နှစ်လျှင် USD ၄၄၈၄၀ နှုန်းဖြင့်(တစ်နှစ်အတွက် မြေတစ်စတုရန်းမီတာလျှင် USD ၈ နှုန်းဖြင့်) နှစ်(၃၀) ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၁၈. ၆. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၀/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၄)အရ Mirae Myanmar Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Mirae Myanmar Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/30..(5)



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

NPT-3496
26.6.15

စာအမှတ် ၃(၂)/၁၁(ဃ)(၆)/(၁၀၈၆/၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၂၅ ရက်

သို့
✓မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M-1184
29.6.15

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း။</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၂ - ၆ -၂၀၁၅၊ ရက်စွဲပါစာအမှတ် ရက - ၃ / န - ၁၂၁၀ /၂၀၁၅ ( ၇၁၉ )

၁။ ကိုရီးယားနိုင်ငံ Mirsae C& T Co., Ltd . မှ ( ၈၀ % )၊ Mr. Jung Pill Moon မှ ( ၁၂ % ) နှင့် Mr. Lee Ho မှ (၈ %) ထည့်ဝင်၍ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ် - ၁၈၀ - D ၊ စက်မှုဒေသ ၊ မြေတိုင်းရပ်ကွက်အမှတ် - အပိုင်း ( ၄ ) တိုးချဲ့ ၊ လှိုင်သာယာမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ( ၁.၃၈၅ ) ဧက ( ၅၆၀၅ စတုရန်းမီတာ) နှင့် ၎င်းမြေပေါ်ရှိ အဆောက်အဦ (၂)လုံး အား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ အဆိုပါအထည်ချုပ်လုပ်ခြင်း လုပ်ငန်းနှင့်ပတ်သက်၍ စိစစ်ရာတွင်အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများဖြစ်သည့် Polyester ၊ Nylon စသည့် ကုန်ကြမ်းပိတ်စ / ပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် ပတ်ဝန်းကျင်ထိခိုက် ပျက်စီးမှုဖြစ်ပေါ်နိုင်ခြင်း ၊ လုပ်ငန်းစဉ်အဆင့်တိုင်းတွင် ထွက်ရှိလာမည့် ပိတ်ဖြတ်စ / အမှုန်အမွှားများကြောင့် မြေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်ခြင်း ၊ လုပ်ငန်းသုံး စက်ပစ္စည်းများကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း နှင့် စွန့်ပစ်ပစ္စည်းများကြောင့် ရေထု ၊ လေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Mirae Myanmar Co ., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ တစ်ဘက်ပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility - CSR ) အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန် ၊

(ခ) စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ် ၊ စောင့်ကြပ် လေ့လာမည့်အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန် ၊

(ဂ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူလူထုတို့၏ ဆန္ဒနှင့် သဘောထားမှတ်ချက် ရယူဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန် ။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၈၂၇)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၁၅ ရက်



သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂. ၆. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ န- ၁၂၁၀/ ၂၀၁၅ (၇၂၀)

၁။ Mirae Myanmar Co., Ltd. အနေဖြင့် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄)တိုးချဲ့၊ စက်မှုဇုန်၊ မြေကွက် အမှတ်-၁၈၀-D တွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှု၊ ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) CMP လုပ်ခနှုန်း တင်ပြထားချက် ဆီလျော်မှု ရှိပါသည်။

(စ) ကုန်ကြမ်းနှင့်ပူးတွဲသုံးပစ္စည်း သုံးစွဲမှုနှုန်းတင်ပြချက်တွင် Dress, Men/Women Pullover, Jacket တို့အတွက် Thread သုံးစွဲမှုနှုန်းများနေသဖြင့် လျှော့နည်း ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(ဆ) နှစ်အလိုက် ကုန်ကြမ်းလိုအပ်ချက်ကို နှစ်အလိုက် ကုန်ထုတ်လုပ်မှုနှင့် ကုန်ကြမ်း သုံးစွဲမှုနှုန်းအပေါ် မူတည်၍ ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

(ဇ) ကုန်ထုတ်လုပ်မှုနှင့် စက်အင်အား ဆီလျော်မှုရှိသော်လည်း ဝန်ထမ်းအင်အား တိုးမြှင့်တင်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Mirae Myanmar Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း လုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၅.၆.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း




ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း- ၀၁-၆၅၈၁၂၈
ဖက်(စ်) - ၀၁-၆၅၈၁၄၁

စာအမှတ်၊ ရက- ၃/န-၁၂၁၀/၂၀၁၅ ( ၇၉၉ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၉ ရက်

M-1350 24/7/15

## အဆိုပြုလွှာအပေါ်ထပ်မံစိစစ်ချက်

Mirae Myanmar Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းအတွက် ပေးပို့ခဲ့သော လုပ်ငန်းနှင့်စပ်လျဉ်း၍ ကုမ္ပဏီသည် ဌာနများ၏ လမ်းညွှန်ချက် နှင့်အညီ ပြန်လည်ပြင်ဆင် တင်ပြလာပါသဖြင့် ၎င်းပြင်ဆင်ချက်ကို အောက်ပါဇယားတွင် စိစစ်မှတ်ချက် ပြုပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၉.၇.၂၀၁၅

အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | စက်မှုဝန်ကြီးဌာန | (ဝင်းနိုင်) ဒုတိယညွှန်ကြားရေးမှူး ဝန်ကြီးရုံး စက်မှုဝန်ကြီးဌာန | | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | ၂၁/၇/၂၀၁၅ |
| ၂ | အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း | ဒေါ်အိုင်း[illegible] | လ/ထ [illegible] | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | |

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

checking ကန့်သတ် Inv(2)





MC-330
15-6

NPF-3285
15.6.15

M-126
17.6.15

JIM

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ**

စာအမှတ်၊ ၃၄-အလ/ခွဲ(၂)၂၀၁၅(၅၈၈၇)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၁၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Mirae Myanmar Co.,Ltd မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၆-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက- ၃/န- ၁၂၁၀/၂၀၁၅(၇၂၁)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-အပိုင်း(၄)တိုးချဲ့၊ စက်မှုဒေသ၊ မြေကွက်အမှတ် (၁၈၀-D)ရှိ မြေဧရိယာ ၁.၃၅၈ ဧက(၅၆၀၅ စတုရန်းမီတာ)၌ မြေနှင့်အဆောက်အဦးအား ငှားရမ်း၍ ကိုရီးယားနိုင်ငံမှ Mirae C & T Co., Ltd က ၈၀% ၊ Mr. Jung Pill Moon က ၁၂% နှင့် Mr. Lee Ho က ၈% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Mirae Myanmar Co.,Ltd တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနှင့် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်တင်ပြမှုအပေါ် CMP လုပ်ငန်း များမြေပြင်ကွင်းဆင်း စစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ ၊ အလုပ်ရုံနှင့် အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန ညွှန်ကြားရေးမှူး ချုပ် ဦးဝင်းရှိန်နှင့် အထည်ချုပ်စက်ရုံ အမှတ် (၁၇) စက်ရုံမှူး ဒေါ်လှသီတာ တို့သည် ၇-၆-၂၀၁၅ ရက်နေ့တွင် တာဝန်ရှိသူများကို တွေ့ဆုံမေးမြန်းခဲ့ပါသည်။

၂။ Mirae Myanmar Co.,Ltd ၏ အဆိုပြုချက်အပေါ် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

**(က) CMP ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

| **ချုပ်ထည်** | **ကစ်ထည်လိုအပ်ချက်နှုန်းထား** | **ကိုက်ညီမှုရှိ/မရှိ** |
|---|---|---|
| 1. T- Shirt | 1.1 yds/pc | ကိုက်ညီမှုရှိပါသည်။ |
| 2. Pant | 1.21 yds/pc | ။ |
| 3. Dress | 1.10 yds/pc | ။ |
| 4. Men Pullover | 2.20 yds/pc | ။ |
| 5. Women Pullover | 1.98 yds/pc | ။ |
| 6. Jacket | 2.20 yds/pc | ။ |

အဆိုပြုချက်ပါ ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည် လိုအပ်ချက်နှုန်းတွင် Fabric အနေဖြင့် ကိုက်ညီသော်လည်း အခြားပူးတွဲသုံးပစ္စည်းများ များနေသည်ကို တွေ့ရပြီး အပ်ချည်သုံးစွဲမှုအနေဖြင့် Men & Women Pullover နှင့် Jacket တွင် အနည်းငယ်များနေပါသည်။

| ချုပ်ထည် | အဆိုပြုထုတ်လုပ်မှု အရေအတွက် | တစ်ထည်လိုအပ် ချက်နှုန်းထား | လိုအပ်မည့် ကုန်ကြမ်းအရေအတွက် |
|---|---|---|---|
| 1. T- Shirt | 18000 dzs | 1.1 yds/pc | 237600 yds |
| 2. Pant | 18000 dzs | 1.21 yds/pc | 261360 yds |
| 3. Dress | 18000 dzs | 1.10 yds/pc | 237600 yds |
| 4. Men Pullover | 18000 dzs | 2.20 yds/pc | 475200 yds |
| 5. Women Pullover | 18000 dzs | 1.98 yds/pc | 427680 yds |
| 6. Jacket | 18000 dzs | 2.20 yds/pc | 475200 yds |

အဆိုပြုချက်ပါ ပစ္စည်းအားလုံး ထုတ်လုပ်မည်ဆိုပါက စုစုပေါင်းကုန်ကြမ်း 2114640 yds ကုန်ကျမည် ကုန်ကျမည်ဖြစ်သဖြင့် အဆိုပြုချက်တွင် 2138136 yds ဖော်ပြထားသဖြင့် 23496 yds ကိုက် ပိုများနေသဖြင့် ပြင်ဆင်တင်ပြသင့်ပါသည်။

(ခ) **CMPလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ**

အဆိုပြုချက်ပါ CMP လက်ခ နှုန်းထားများသည် လက်ရှိ လက်ခနှုန်းထား နှင့် နှိုင်းယှဉ်ရာတွင် CMP လက်ခနှုန်းထားများ ကိုက်ညီမှုရှိပါသည်-

| ချုပ်ထည် | အဆိုပြုချက်ပါ CMP လက်ခနှုန်းထား | အထည်ချုပ်အသင်း လက်ရှိ CMP လက်ခနှုန်းထား |
|---|---|---|
| 1. T- Shirt | 18.00 US$/ Dz | 10-12 US$/Dz |
| 2. Pant | 24.00 US$/Dz | 10-12 US$/Dz |
| 3. Dress | 30.00 US$/ Dz | 20-30 US$/ Dz |
| 4. Men Pullover | 30.00 US$/ Dz | 20-30 US$/ Dz |
| 5. Women Pullover | 30.00 US$/ Dz | 20-30 US$/ Dz |
| 6. Jacket | 30.00 US$/ Dz | 20-30 US$/ Dz |

(ဂ) **နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ**

အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းများမှာ T- Shirt ၊ Pant ၊ Dress ၊ Men Pullover ၊ Women Pullover နှင့် Jacket တို့ဖြစ်ပြီး အဓိကစက်အနေဖြင့် Single Needle Machines ၇၅၄ လုံး ၊ Over/Inter Lock Machines ၂၉၃ လုံး၊ Double Needle Machines ၃၆ လုံး ဟုဖော်ပြထားခြင်း၊ Skill Workers ၃၉၀ ဦး၊ Helpers ၅၀ ဦး၊ Semi Skill Workers ၅၀ ဦး ၊ Quality Control Workers ၂၅ ဦးတို့သာ ခန့်ထားလုပ်ကိုင်စေပါက စက်အရေအတွက်များပြီး Cutting နှင့်

Finishing အတွက် လူအင်အားခွဲချထားပါက စက်အားလုံး လည်ပတ်နိုင်ခြင်း မရှိကြောင်း တွေ့ရှိရပါ သည်။ လူဦးရေ အခြေခံတွက်ချက်မည်ဆိုပါက -

| ချုပ်ထည် | ကုန်ထုတ်စက် | တစ်ရက် ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ်မှု (၃၁၀) ရက် |
|---|---|---|---|
| 1. T- Shirt | စက်(၁)လိုင်း | 580 pcs/10 hour | 14983 dzs |
| 2. Pant | စက်(၁)လိုင်း | 580 pcs/10 hour | 14983 dzs |
| 3. Dress | စက်(၁)လိုင်း | 348 pcs/10 hour | 8990 dzs |
| 4. Men Pullover | စက်(၁)လိုင်း | 464 pcs/10 hour | 11987 dzs |
| 5. Women Pullover | စက်(၁)လိုင်း | 464 pcs/10 hour | 11987 dzs |
| 6. Jacket | စက်(၁)လိုင်း | 348 pcs/10 hour | 8990 dzs |

အဆိုပြုချက်ပါ ထုတ်လုပ်မှုနှင့် နှိုင်းယှဉ်လျှင် အဆိုပြုချက် နှုန်းထားနှင့်အညီ ထုတ်လုပ်နိုင်ခြင်း မရှိသဖြင့် လူဦးရေတိုးမြှင့်မှသာ ထုတ်လုပ်နိုင်မည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရသဖြင့် ပြင်ဆင်တင်ပြသင့်ပြီး ထုတ်လုပ်နိုင်သည့် နှုန်းထားနှင့် လျော်ညီမည့် ကုန်ကြမ်းပမာဏသာတင်သွင်း သင့်ပါသည်။

| ချုပ်ထည် | အဆိုပြု ထုတ်လုပ်မှု အရေအတွက် | တစ်နှစ်ထုတ်လုပ်နိုင်မှု ပမာဏ(ထည်) |
|---|---|---|
| 1. T- Shirt | 18000 dzs | 14983-15200 dzs |
| 2. Pant | 18000 dzs | 14983-15200 dzs |
| 3. Dress | 18000 dzs | 8990-9100 dzs |
| 4. Men Pullover | 18000 dzs | 11987-12100 dzs |
| 5. Women Pullover | 18000 dzs | 11987-12100 dzs |
| 6. Jacket | 18000 dzs | 8990-9100 dzs |

၃။ သို့ဖြစ်၍ Mirae Myanmar Co.,Ltd အား ပြင်ဆင်တင်ပြသင့်သည်များကို ပြင်ဆင်တင်ပြစေပြီးမှသာ ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ထင်အောင်၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)

အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
(CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
Mirae Myanmar Co.,Ltd
ရုံးလက်ခံ
မျှောစာတွဲ



ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)-သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း- ၀၁-၆၅၈၁၂၈
ဖက်(စ်) - ၀၁-၆၅၈၁၄၀

စာအမှတ်၊ ရက- ၃/န-၁၂၁၀/၂၀၁၅ (၈၇၀)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၃ ရက်

M-1287 1617

အဆိုပြုလွှာအပေါ် ထပ်မံစိစစ်ချက်

Mirae Myanmar Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းအတွက် ပေးပို့ခဲ့သော လုပ်ငန်းနှင့်စပ်လျဉ်း၍ ကုမ္ပဏီသည် ဌာနများ၏ လမ်းညွှန်ချက်နှင့်အညီ ပြန်လည် ပြင်ဆင် တင်ပြလာပါသဖြင့် ၎င်းပြင်ဆင်ချက်ကို အောက်ပါဇယားတွင် စိစစ်မှတ်ချက်ပြုပေးနိုင်ပါရန် မေတ္တာရပ်ခံ အပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ | [illegible] | [illegible] (၁၇) | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | [signature] [illegible] အထည်ချုပ်လက်ခံအမှတ်(၁၇) |

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ကုမ္ပဏီအမည် - Myanmar Dongtai Garments Company Limited

လုပ်ငန်း - CMP စနစ်ဖြင့် အထည်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၉-၅-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၇-၅-၂၀၁၅ | ၁၆-၆-၂၀၁၅ | |
| | ( ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၇-၅-၂၀၁၅ | ၁၅-၆-၂၀၁၅ | |
| | ( ဂ) စက်မှုဝန်ကြီးဌာန | ၂၇-၅-၂၀၁၅ | ၁၅-၆-၂၀၁၅ | |
| | (ဃ) CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ၂၇-၅-၂၀၁၅ | ၁၅-၆-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၇/၂၀၁၅) သို့ တင်ပြခြင်း | ၂၅-၅-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းစာပေးပို့ခြင်း | ၂၅-၅-၂၀၁၅ | | |
| ၅ | ကုမ္ပဏီသို့ လိုအပ်ချက်များပြင်ဆင်ရန် အကြောင်းကြားခြင်း | ၁၈-၆-၂၀၁၅ | | |
| ၆ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပြင်ဆင်၍ တင်ပြခြင်း | | ၂၂-၆-၂၀၁၅ | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပြင်ဆင်၍ အဆိုပြုလွှာ အစုံ(၇)စုံ ပေးပို့ခြင်း | | ၂၇-၇-၂၀၁၅ | |
| | **စုစုပေါင်းကြာမြင့်ရက် ၆၉ ရက်** | | | |

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Dongtai Garments Co., Ltd. တည်ထောင် ကာ CMP စနစ်ဖြင့် အထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်းဆောင် ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Myanmar Dongtai Garments Co., Ltd.<br>Mr. Dong Jixian (Chinese) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Qingdao Handsome Garments Co., Ltd. (China) ၁၀၀% |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အထည်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၁၈၊ မြေတိုင်းရပ်ကွက် အမှတ်-၁၄၃/၁၊ ကျန်စစ်သားရိပ်မွန်စက်မှုဇုန်-၁၊ဒဂုန်မြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဒေါ်အေးကွယ် |
| | မြေအကျယ်အဝန်း | - ၂.၂၁၉ ဧက (၈၉၇၉.၉၈၂စတုရန်းမီတာ) |
| | မြေငှားရမ်းကာလ | - ကနဦး ၃၀ နှစ် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| ၃။ | နှစ်စဉ်မြေနှင့်အဆောက်အဦငှားရမ်းခ | - US$ ၄၉,၃၈၉.၉<br>- ၁၀၀ပေx၂၀၀ပေတစ်ထပ်အဆောက်အဦတစ်လုံး<br>- ၁ နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန် ဒေါ်လာ ၅.၅ နှုန်းဖြစ်ပါသည်။ |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| | တည်ဆောက်ရေးကာလ(ပြုပြင်ခြင်းနှင့် စက်ပစ္စည်း တပ်ဆင်ခြင်း) | - ၁၈ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၀.၇၆၃၈ သန်း<br>(US$သန်း) |
| | ငွေသား | ၀.၃၀၀၀ |
| | စက်နှင့်စက်ပစ္စည်း (ပြည်ပဝယ်) | ၀.၁၅၃၄ |
| | ရုံးအသုံးအဆောင်ပစ္စည်းများ (ပြည်တွင်းဝယ်) | ၀.၀၅၈၀ |
| | မော်တော်ကား(ပြည်တွင်းဝယ်) | ၀.၀၀၈၀ |
| | လျှပ်စစ်ပစ္စည်း(ပြည်တွင်းဝယ်) | ၀.၁၀၀၀ |
| | စက်နှင့်စက်ပစ္စည်း(ပြည်တွင်းဝယ်) | ၀.၀၄၄၄ |
| | အဆောက်အဦပြင်ဆင်စရိတ် | ၀.၁၀၀၀ |
| | **စုစုပေါင်း** | **၀.၇၆၃၈** |
| ၆။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - **၅၂၆ ဦး** |
| | ပြည်တွင်း | - ၅၁၄ ဦး (ပြည်တွင်းအနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာကျပ်၉၅,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၅၀၀,၀၀၀) |
| | ပြည်ပ | - ၁၂ ဦး ( ပြည်ပ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ US$ ၂,၀၀၀ နှင့် အမြင့်ဆုံးလစာ US$ ၂,၅၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀% ပြည်ပသို့ တင်ပို့မည်ဖြစ်ပါသည်။ |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - US $ ၂.၃၃၇၇ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ်) | - US $ ၂.၁၇၀၅ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - US $ ၀.၁၆၇၂ သန်း |

| | | |
|---|---|---|
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆ၃၅မနှစ်) | |
| | ဝင်ငွေခွန် | - US $ ၀.၀၅၅၇ သန်း |
| | အရင်းကြေကာလ | - ၄ နှစ် ၆ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၉.၂၂%<br>(1 US$ ဒေါ်လာလျှင် ၁၀၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။) |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ပုံမှန်နှစ်) | - ၅၅,၀၀၀ Unit |
| ၁၁။ | CSR | လူမှုဘဝသာယာဝပြောရေးတာဝန်ယူမှု (Corporate Social Responsibility) အတွက် အသားတင်အမြတ်ငွေ၏ ၁% ကို အသုံး ပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | ရေဂါလံ (၈၀,၀၀၀)ဆံ့ ရေကန်(၁)ကန် တည်ဆောက်မည်ဖြစ်ပါကြောင်း၊ စက်ရုံအဆောက်အဦအား မီးလောင်မှုမှ ကာကွယ်ရန် ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဗူးများကို အဆင်သင့် ထားရှိမည် ဖြစ်ပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်း ပညာများ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါကြောင်း၊ အရေးပေါ် အခြေအနေပေါ် ပေါက်ပါက လုပ်ဆောင်ရန် အချက်များအား တိကျစွာ လိုက်နာရေးအတွက် ဝန်ထမ်းများအား ညွှန်ကြားထားမည်ဖြစ်ပါကြောင်း၊ မီးလောင်လျှင် အချက်ပေးသည့်စနစ် တပ်ဆင်ထားမည်ဖြစ်ကြောင်း၊ မနက်/ည အဖွဲ့ခွဲ၍ မီးဘေး လုံခြုံရေးစောင့်ကြပ်ခိုင်းမည်ဖြစ်ကြောင်း၊ စက်ရုံအတွင်း နှင့် စက်ရုံဝင်းအတွင်း ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထား ပါကြောင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်းတင်ပြထားပါသည်။ |




M-1111
16.6.15

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / လုံခြုံ
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇွန် လ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇. ၅. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃/ န-၁၂၀၇ / ၂၀၁၅ (၆၈၉)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Qingdao Handsome Garments Co., Ltd. မှ မြန်မာနိုင်ငံတွင် Myanmar Dongtai Garments Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၁၈၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၃/၁၊ ကျန်စစ်သားရိပ်မွန်စက်မှုဇုန်-၁၊ ဒဂုံမြို့သစ်(တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂. ၂၁၉ ဧက(၈၉၇၉. ၉၈ စတုရန်းမီတာ)ရှိ မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦအားငှားရမ်း၍ CMP စနစ်ဖြင့် အထည်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၄၈၆)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် မြေကွက်အမှတ်-၁၈၊ မြေတိုင်းရပ်ကွက်အမှတ်-၁၄၃/၁၊ ကျန်စစ်သားရိပ်မွန်စက်မှုဇုန်-၁၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂. ၂၁၉ ဧက(၈၉၇၉. ၉၈ စတုရန်းမီတာ)အား တစ်နှစ်အတွက် မြေတစ်စတုရန်းမီတာလျှင် USD ၅. ၅ နှုန်းဖြင့် ကနဦးနှစ်(၃၀)၊ ထပ်တိုး(၁၀)နှစ် (၂)ကြိမ် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/27.(5)

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၄. ၆. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၇/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၄)အရ Myanmar Dongtai Garments Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း တောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myanmar Dongtai Garments Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

NPT-3261
12.5.15

စာအမှတ် ၃(၁)/၁၁(ဃ)(ဖ)/( ၈၆၃ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၁၀ ရက်

M-1101
15.6

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇ - ၅ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃ / န - ၁၂၀၇ / ၂၀၁၅ ( ဖ၉၀ )

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ တရုတ်ပြည်သူ့သမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော Qingdao Handsome Garments Co., Ltd မှ မြန်မာနိုင်ငံတွင် Myanmar Dongtai Garments Co., Ltd တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ် - ၁၈ ၊ မြေတိုင်းရပ်ကွက်အမှတ် ၁၄၃ / ၁ ၊ ကျန်စစ်သားရိပ်မွန် စက်မှုဇုန် - ၁ ၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ (၂.၂၁၉၈ဧက) (၈၉၇၉.၉၈ စတုရန်းမီတာ ) ရှိ မြေ နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦအား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ အဆိုပြုလွှာအား စိစစ်ရာတွင် အထည်ချုပ်လုပ်ငန်းတွင် အသုံးပြုမည့် Polyester Fabric ၊ Zipper နှင့် Velcro Tape စသည့် ကုန်ကြမ်းပိတ်စ / ပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ဖြစ်ပေါ်နိုင်ခြင်း ၊ လုပ်ငန်းစဉ်အဆင့်တိုင်းတွင် ထွက်ရှိလာမည့် ပိတ်ဖြတ်စများ၊ အမှုန်အမွှားများကြောင့် ပတ်ဝန်းကျင် လေထုနှင့် မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်း၊ပိတ်စဖြတ်ခြင်း ၊ပုံစံညှပ်ခြင်း ၊ အထည်ချုပ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်တွင် စက်များ အသုံးပြု၍ ဆောင်ရွက်မည်ဖြစ်သဖြင့် အသံဆူညံခြင်းစသောပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Myanmar Dongtai Garments Co., Ltd မှ အထည်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း နှင့် ပတ်သက်၍ တစ်ဘက်တွင် ဖော်ပြပါရှိချက်အတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) အထည်ချုပ်လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ချမှတ်ခြင်း ၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းစနစ်များ ၊ စက်ပစ္စည်းများကို အသုံးပြုခြင်း နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အား အမြတ်ငွေ၏ ၁% ထည့်ဝင်ရန် အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ် ၊ စောင့်ကြည့် လေ့လာမည့်အစီအစဉ် ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan- EMP ) ရေးဆွဲတင်ပြရန် နှင့် ၎င်းအစီအစဉ်ပါအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်း၊စည်းမျဉ်းစည်းကမ်းများ နှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည် ဖော်ဆောင်ရွက် ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

(signature) ၁၀/၆/၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆ (၇၉၀)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၁၁ ရက်

M-1097 15.6.15

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇. ၅. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ န-၁၂၀၇ / ၂၀၁၅ (၆၉၁)

၁။ Myanmar Dongtai Garments Co.,Ltd. သည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ကျန်စစ်သားရိပ်မွန်စက်မှုဇုန်(၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄၃/၁)၊ မြေကွက်အမှတ်(၁၈)တွင် CMP စနစ်ဖြင့် အထည်အမျိုးမျိုး ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် အထည်အမျိုးမျိုးချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) CMP လုပ်ခနှုန်း တင်ပြထားချက် ဆီလျော်မှု ရှိပါသည်။

